# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ

## လုပ်ငန်းညှိနှိုင်းရေးဌာနခွဲ

## ဝင်စာတင်ပြလွှာ

ကုမ္ပဏီအမည် Zaykabar Co., Ltd.
(ဇေကဘာကုမ္ပဏီလီမိတက်)

တင်ပြသည့် လုပ်ငန်း လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲ လမ်းပိုင်း (၅၉/၆) မိုင်

| ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|
| ၁၄.၆.၂၀၁၃ | အဆိုပြုလွှာ လက်ခံရရှိပါသည်။ Proposal (၁၈) အုပ် ရရှိ | (၁၀/၂၀၁၃) (၂၀.၆.၁၃) PAT အစည်းအဝေးသို့ တင်ရန် |
| ၁၅.၆.၂၀၁၃ | Legal / PAPRD သို့ သဘောထားတောင်းခံစာ (စာချော)တင်ထား / PAT (၁၀/၁၃) Memo (စာကြမ်း)တင်ထား | |
| ၁၈.၆.၂၀၁၃ | PAT memo စာချောတင်ပြသည်။ | |
| " | Legal သို့ သဘောထားတောင်းစာပို့သည်။ | |
| ၁၉.၆.၂၀၁၃ | ကွင်းဆင်းမှုစစ်သည် | |
| ၂၀.၆.၂၀၁၃ | ၁၀/၂၀၁၃ PAT တွင်ဆွေးနွေးသည်။ | |
| ၂၁.၆.၂၀၁၃ | ၁၃/၂၀၁၃ MIC တွင်ဆွေးနွေးရန် Salient Point ပေးသည် | |
| " | ကွင်းဆင်းမှုပြင်ရန် ကုမ္ပဏီသို့ အကြောင်းကြားရန် | |
| ၂၂.၆.၂၀၁၃ | ဥပဒေဌာန မှ မှတ်ချက်ရရှိသည်။ | |
| ၂၄.၆.၂၀၁၃ | ကွင်းဆင်းမှုပြင်ရန် ကုမ္ပဏီသို့ Fax ပို့ပြီး | |
| ၂၈.၆.၂၀၁၃ | PAT ပြန်ကြားချက်အရ ကုမ္ပဏီမှ ချက်လက်ခံကြောင်း ပြန်ကြားထားသည်။ | |
| ၂.၇.၂၀၁၃ | PAPRD သဘောထား ရရှိသည်။ | |

[redacted]

ပုံစံ (မနသ - ၂)
စာအမှတ် ၉၄၅၀-၁၁
ရက်စွဲ ၂၁.၈.၂၀၁၃

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၆၂၅...... / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဩဂုတ် လ ၂၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ)အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...... ဒေါ်ဇေဇင်လတ်

(ခ) အဘ အမည် ...... ဦးခင်ရွှေ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ...... ၁၂/ဗဟန(နိုင်) ၀၈၄၉၁၀

(ဃ) နေရပ်လိပ်စာ ...... အမှတ်(၇၇)၊ တက္ကသိုလ်ရိပ်သာ၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...... Zaykabar Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...... BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...... လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲ လမ်းပိုင်း ၅၉ မိုင် ၊ ၆ ဖာလုံ

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၆၄၂၉.၆၉ (သန်း) (အမေရိကန်ဒေါ်လာ ၄.၅၆ သန်း အပါအဝင် စုစုပေါင်းကျပ် ကိုးထောင်လေးရာနှစ်ဆယ့် ကိုးသန်းနှင့် ခြောက်သိန်းကိုးသောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၄/၁၈

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၆၅ /၂၀၁၃ (မနသ)

၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Zaykabar Co., Ltd. မှ လှိုင်သာယာ - ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း- ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား(၂၇-၇-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၁၃)အစည်းအဝေးမှ ခွင့်ပြုကြောင်းနှင့် ပြည်ပမှ စက်ပစ္စည်းများ တင်သွင်းမှုအား ပြင်ဆင်တင်ပြလာပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်းအား ကုမ္ပဏီမှ ပြင်ဆင်တင်ပြလာပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး လျှက် Zaykabar Co., Ltd. မှ လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း- ဒေးဒရဲ လမ်းပိုင်း (၅၉/၆)မိုင်အား BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၂၅/၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Zaykabar Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်းစီးပွားဖြစ်စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၅)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ် ခွင့်ပြုသည်။

(ခ) ဥပဒေ ပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုလုပ် သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေ ကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက် သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း

အမှန်တကယ်အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန် ကိစ္စအလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်ကသတ်မှတ်သည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက် ငွေကို အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ) အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ၊ နှစ်မျိုးစလုံးကိုဖြစ်စေ ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကိုခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည် တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် ( Inspection Agency ) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Zaykabar Co., Ltd. သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက်** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Zaykabar Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများ ကို သီးခြား ပြုစုထားရှိရမည်။

၆။ Zaykabar Co., Ltd. သည် လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း - ဒေးဒရဲ လမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ချုပ်ဆိုမည့် BOT ပဋိညာဥ်စာချုပ်ပါ သတ်မှတ်ချက် စည်းမျဥ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် Zaykabar Co., Ltd. တို့ လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း- ဒေးဒရဲ လမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဥ်စာချုပ် လက်မှတ် ရေးထိုး၍ **ထိုက်သင့်သော တံဆိပ် ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ Zaykabar Co., Ltd. သည် လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း- ဒေးဒရဲလမ်းပိုင်း(၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းသက်တမ်းမှာ နှစ်(၄၀)ဖြစ်သည်။ သက်တမ်းကိုရေတွက်ရာတွင် လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့် ရက်နေ့(သို့မဟုတ်) လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ထုတ်ပေးသည့် ရက်နေ့ ထိုနှစ်ရပ် အနက် စောရာ ရက်နေ့ ကာလမှ စတင် သတ်မှတ်မည်။

၉။ Zaykabar Co., Ltd. သည် ကောက်ခံရရှိသည့် လမ်းအသုံးပြုခမှ "လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ" သို့ အောက်ပါအတိုင်း ပေးသွင်းရမည်။

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | ၅% ပေးသွင်းရန် |
| (၃) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% ပေးသွင်းရန် |
| (၄) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅% ပေးသွင်းရန် |
| (၅) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၇)နှစ် | ၂၀% ပေးသွင်းရန် |

(၆) ၄၀ နှစ်ကျော် ကာလ အတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန် ဖြစ်ပါသည်။

၁၀။ Zaykabar Co., Ltd.သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ နှစ် (၄၀) သို့မဟုတ် လုပ်ငန်း ဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် ဂိတ်များကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်း ပေးရမည်။

၁၁။ Zaykabar Co., Ltd. မှ နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာ ရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၂။ Zaykabar Co., Ltd. သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေ ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Zaykabar Co., Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ Zaykabar Co., Ltd.သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်းစစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကိုပြန်လည်ရုပ်သိမ်းသည်အထိအရေးယူခြင်းခံရမည်။

၁၆။ Zaykabar Co., Ltd.သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့်နေ့ရက် နှင့် စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၃၄၉/၂၀၁၃(၉ ၄ ၅ ၀ - ဃ)
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၁ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန
ဆက်သွယ်ရေး၊ သတင်းအချက်အလက် နှင့် နည်းပညာ ဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
အုပ်ချုပ်မှုဒါရိုက်တာ၊ Zaykabar Co., Ltd.

အထွေထွေ အရပ်ရပ်-၁၆
(ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်) စာကြမ်းရေးရန်)

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာ လ ၄ ရက်

အကြောင်းအရာ။ **Zaykabar Co., Ltd. မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွန်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Zaykabar Co., Ltd.သည် လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွန်းခြံကုန်း- ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၇-၇-၂၀၁၃) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်းဆောင်ရွက် ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသဖြင့် ခွင့်ပြုမိန့်အမှတ် မနသ-၉၂၅/၂၀၁၃အား ထုတ်ပေးခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ရင်းနှီး/ကြီးကြပ်ဌာနခွဲသို့ လုပ်ငန်းအဆိုပြုလွှာ(၃)အုပ်နှင့်အတူ MIC Memo ၊ ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ(၃)စုံစီအား လွှဲပြောင်းပေးရန်အတွက် ပြုစုတင်ပြ အပ်ပါသည်။

(မိမိသဉ္ဇာချို)
ဦးစီးအရာရှိ

**ဒုတိယညွှန်ကြားရေးမှူး**

၃။

ZAYKABAR Company Limited

No.(1) MINGALARDON GARDEN CITY, HIGHWAY No.(3) MINGALARDON TOWNSHIP, YANGON, MYANMAR.
TEL : (951) 639303, 639304, 639305, 639306 Email : zaykabar.coltd@gmail.com Fax : (951) 639395

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ ရက်

အကြောင်းအရာ။ ။ကိုယ်စားလှယ်စေလွှတ်ခြင်း။

၁။ ဇေကမ္ဘာကုမ္ပဏီလီမိတတ်သည် လှိုင်သာယာ - ဒလ - တွံတေး - ကော့မှူး - ကွမ်းခြံကုန်း -ဒေးဒရဲလမ်း (၅၉) မိုင် (၆) ဖာလုံအား B.O.T စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့ တည်ဆောက်လျှက်ရှိပါသည်။

၂။ ယခုအခါ လုပ်ငန်းအားလုံး၏ ၉၀% နှုန်းကျော် ပြီးစီးပြီဖြစ်သည့်အပြင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေ အရခွင့်ပြုမိန့် ထုတ်ပေးရန်သာ ကျန်ရှိပါသည်။

၃။ သို့ဖြစ်၍ အထက်ပါ ခွင့်ပြုမိန့်ထုတ်ယူရန်အတွက် ကုမ္ပဏီ၏ ကိုယ်စားလှယ်အဖြစ် စီမံကိန်းဒါရိုက်တာ ဦးရဲဝင်းရှိန်၊ နိုင်ငံသားစိစစ်ရေးကတ် အမှတ် - ၁၂/မဂဒ (နိုင်) ၀၀၀၁၄၀ အားစေလွှတ်အပ်ပါသည်။

၄။ အဆိုပါ ကိုယ်စားလှယ်၏ ထိုးမြဲလက်မှတ် နမူနာမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ..........................................

(ခ) ..........................................

(ဂ) ..........................................

ဒါရိုက်တာ

ဒေါ်ဇေဇင်လတ်

မိတ္တူကို

- ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၃(ကုမ္ပဏီ)(စီ ၅၄၄၉)

ရက် စွဲ၊ ၂၀၁၃ ခုနှစ် ဇွန်လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ဇေကမ္ဘာကုမ္ပဏီလီမိတက် မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိသော လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း- ဒေးဒရဲ လမ်းပိုင်း အတွက် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများအနက် ဇေကမ္ဘာကုမ္ပဏီလီမိတက်မှဆောင်ရွက်လျက်ရှိသည့် လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း(၅၉/၆) မိုင်၏ အဆိုပြုလွှာ နှင့် ပဋိညာဉ် စာချုပ်ပါ လိုအပ်ချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စိစစ်အတည်ပြုချက်ရယူ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီး ဖြစ်ပါသည် ။

၂။ သို့ဖြစ်ပါ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊လမ်းဦးစီးမှ စိစစ်ပြီးဖြစ်သည့် လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆) မိုင်၏ အဆိုပြုလွှာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ ဆက်လက် တင်ပြပေးနိုင်ပါရန် ဇေကမ္ဘာကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် အဆိုပြုလွှာ (၁) စုံ ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား (၁)စောင် ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ပြန်ကြားလာသည့် စာမိတ္တူ(၁)စုံတို့ နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည် ။

၁၂/၆/၂၀၁၃

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

စိုးတင့် ၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာချုပ်(လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၃(ကုမ္ပဏီ)(စီ ၈၉၄၇)
ရက် စွဲ၊ ၂၀၁၃ ခုနှစ် စက်တင်ဘာလ ၁၈ ရက်

M.1044
19.9.13

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ဇေကမ္ဘာကုမ္ပဏီလီမိတက် မှ B.O.T စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သော စက်ယန္တရားစာရင်း တင်ပြချက်အပေါ် စိစစ်ပေးနိုင်ပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၀၁၃ခုနှစ်ဩဂုတ်လ(၂၆)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က)မ-၁၃၄၉/ ၂၀၁၃(၉၆၂၅)

၁။ ဇေကမ္ဘာကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော လှိုင်သာယာ - ဒလ - တွံတေး - ကော့မှူး - ကွမ်းခြံကုန်း - ဒေးဒရဲလမ်းပိုင်း (၅၉/၆) မိုင်တွင် လုပ်ငန်းအပြီးသတ်ရန်(၂)မိုင်ခန့်သာ ကျန်ရှိကြောင်းနှင့် မြေပြင်တွင် စုစုပေါင်း ၉၀ ရာခိုင်နှုန်းခန့် ပြီးစီးနေကြောင်း သိရှိရသဖြင့် ကုမ္ပဏီမှ တင်ပြလာသော စက်ယန္တရားများမှာ ကျန်ရှိသည့် လုပ်ငန်း ပမာဏနှင့် လိုက်လျောညီထွေမှု ရှိ - မရှိ နှင့် အမှန်တကယ် လိုအပ်သည့် ပမာဏ မှန်ကန်ခြင်း ရှိ - မရှိတို့ကို စိစစ်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည် ။

၂။ အဆိုပါ ကုမ္ပဏီအနေဖြင့် လမ်းအဆင့် မြှင့်တင်ခြင်းလုပ်ငန်း မြန်ဆန်စွာ ပြီးစီးနိုင်ရေး အတွက် အခြားလုပ်ငန်းမှ ရင်းနှီးမြှုပ်နှံထားသော စက်ယန္တရားများကို အသုံးပြုခဲ့ရသဖြင့် လမ်းပိုင်း ဆောင်ရွက်ရန်(၂/၀)မိုင်သာ ကျန်ရှိနေခြင်းဖြစ်ပြီး စက်ယန္တရားများ သုံးစွဲရန် သက်တမ်းအကန့် အသတ် ရှိသဖြင့် ကုမ္ပဏီမှ စိုက်ထုတ်အသုံးပြုထားသော အခြားလုပ်ငန်းတွင် ပြန်လည်အသုံးပြုနိုင် ရေးနှင့် လမ်းအဆင့်မြှင့်တင်ခြင်း လုပ်ငန်းများ ပြီးစီးသော်လည်း လမ်းရေရှည် တည်တံ့ကောင်းမွန် ရေးတို့အတွက် ဆက်လက်ထိန်းသိမ်း ဆောင်ရွက်ရာတွင် စက်ယန္တရားများ အမှန်တကယ် လိုအပ် မည် ဖြစ်ကြောင်း တွေ့ရှိရပါသည် ။

၃။ သို့ဖြစ်ပါ၍ ဇေကမ္ဘာကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက် လျှက်ရှိသော လမ်းပိုင်းတွင် အသုံးပြုရန်အတွက် ကုမ္ပဏီ၏ တင်ပြစာပါ စက်ယန္တရားများမှာ အမှန် တကယ် လိုအပ်လျှက်ရှိပါကြောင်း နှင့် ပြည်ပမှ တင်ပသွင်းခွင့်အား မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည် ။

၁၈/၉/၂၀၁၃

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့်၊ ဒုတိယဝန်ကြီး

D:\Khwe 2 2013\DM Pg.382 (2)

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာချုပ်(လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

Myanmar Investment Commission

ရုံးအမှတ်(၃၂)၊ နေပြည်တော်

☎ ၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

ဖက်(စ်) ၀၆၇-၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က)/ မ-၁၃၄၉/ ၂၀၁၃( ၉၆၂၅ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၆ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **Zaykabar Co., Ltd. မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သော စက်ယန္တရား စာရင်း တင်ပြချက်အပေါ် စိစစ်ပေးနိုင်ပါရန် တင်ပြခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၁၂-၆-၂၀၁၃)ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ-၂/ထွေ/၂၀၁၃(ကုမ္ပဏီ)(စီ ၅၄၄၉)

၁။ Zaykabar Co., Ltd မှ လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း- ဒေးဒရဲ လမ်းပိုင်း(၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုချက် တင်ပြခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ကော်မရှင်၏(၁၉/၂၀၁၃) (၂၇-၇-၂၀၁၃) အစည်းအဝေးမှ "Zaykabar Co., Ltd. ၏ လှိုင်သာယာ- ဒလ- တွံတေး- ကော့မှူး- ကွမ်းခြံကုန်း- ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြချက်အပေါ် ကုမ္ပဏီသည် ပြည်ပမှ စက်ပစ္စည်းများ တင်သွင်းမှုအား ပြင်ဆင် တင်ပြလာပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ခွင့်ပြုမိန့် ထုတ်ပေးရန် " ဆုံးဖြတ်ခဲ့ပါသည်။

၃။ အဆိုပါ ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ လိုအပ်မည့် စက်ယန္တရားများအား အောက်ပါအတိုင်း ပြင်ဆင်တင်ပြလာပါသည်-

| စဉ် | စက်ယန္တရားအမျိုးအမည် | ရေတွက်ပုံ | မူလအဆိုပြုချက်ပါ အရေအတွက် | ပြင်ဆင်တင်ပြသည့်အရေအတွက် | ခြားနားချက် |
|---|---|---|---|---|---|
| | MACHINE | | | | |
| ၁ | Motor Grader | Unit | 2 | 2 | - |
| ၂ | Dozer | Unit | 2 | 2 | - |
| ၃ | Front End Loader (Wheel Loader) | Unit | 1 | 1 | - |
| ၄ | Back Hoe (Excavator) | Unit | 7 | 3 | 4 |
| ၅ | 3 Wheel Roller (Road Roller) | Unit | 5 | 3 | 2 |
| ၆ | Plane Roller (Vibration Roller) | Unit | 5 | 3 | 2 |
| ၇ | Tyre Roller | Unit | 2 | 2 | - |
| | VEHICLES | | | | |
| ၈ | Transporter | Unit | 2 | 2 | - |
| ၉ | Mobile Crane Car | Unit | 2 | 2 | - |
| ၁၀ | Water Bowser | Unit | 4 | 2 | 2 |
| ၁၁ | Oil Bowser | Unit | 2 | 2 | - |
| ၁၂ | Dump Truck | Unit | 15 | 8 | 7 |
| ၁၃ | Off Road Tipper | Unit | 6 | 5 | 1 |
| ၁၄ | Bus (Office Staff ferry) | Unit | 2 | 2 | - |
| | OTHER | | | | |
| ၁၅ | Generator150 KVA | Unit | 2 | 2 | - |
| ၁၆ | Toll Gate System & Parts(B/N) | Set | 2 | 2 | - |
| ၁၇ | Machinery Spare Parts & Road Construction Equipment (machine parts & accessories including castors & wheels, anti - vibration mounts & handles) | - | တန်ဖိုး US$ 50000 ဖြစ်ပြီး အရေအတွက် ဖော်ပြမထားပါ | - | တင်သွင်းခြင်း မပြုတော့ပါ |
| | စုစုပေါင်းတန်ဖိုး | | US$ ၁.၅၁ သန်း | US$ ၀.၉၉၆သန်း | US$ ၀.၅၁၄ သန်း |

၄။ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် ကုမ္ပဏီ၏တင်ပြချက်အရ လမ်းအပိုင်းဆောင်ရွက်မှုမှာ လုပ်ငန်း အပြီးသတ်ရန် (၂)မိုင် ခန့်သာ ကျန်ရှိကြောင်း နှင့် မြေပြင်တွင် စုစုပေါင်း ၉၀ ရာခိုင်နှုန်းခန့် ပြီးစီးနေကြောင်းသိရှိရပါသဖြင့် ကုမ္ပဏီမှ တင်ပြလာသော စက်ယန္တရားများမှာ ကျန်ရှိသည့် လုပ်ငန်း ပမာဏနှင့် လိုက်လျောညီထွေမှု ရှိ-မရှိ နှင့် အမှန်တကယ် လိုအပ်သည့် ပမာဏ မှန်ကန်ခြင်း ရှိ-မရှိ တို့ကို စိစစ် ပြန်ကြားပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ဥက္ကဌ (ကိုယ်စား)
(ချို့ချို့ဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

အင်ဂျင်နီယာချုပ်(လမ်း)
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

မန်နေဂျင်းဒါရိုက်တာ
Zaykabar Co., Ltd

ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၁၃ ရက်

အကြောင်းအရာ။ **Zaykabar Co., Ltd မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Zaykabar Co., Ltd. မှ လှိုင်သာယာ- ဒလ- တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုတင်ပြချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၁၃) (၂၇-၇-၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေး မှ " Zaykabar Co., Ltd. မှ လှိုင်သာယာ- ဒလ- တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူပြီး ကုမ္ပဏီမှ ပြည်ပမှစက်ပစ္စည်းများ တင်သွင်းမှုအားပြင်ဆင်တင်ပြလာပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ထုတ်ပေးရန် " ဆုံးဖြတ်ခဲ့ရာ ကုမ္ပဏီမှ ကော်မရှင် အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ စာရင်းအား ပြင်ဆင်ပြီး တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Zaykabar Co., Ltd. အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (စာချော)** တို့အား လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစု တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
ညွှန်ကြားရေးမှူးချုပ်

**ဥက္ကဋ္ဌ**

၄။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၃ ခုနှစ်၊ ဇူလိုင် လ ၂၇ ရက်နေ့ မွန်းလွဲ ၁၇ း ၀၀ နာရီ ရန်ကုန်တိုင်းဒေသကြီးရှိ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ရုံး အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၁၃) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**တက်ရောက်သူများ**

| | |
|---|---|
| ဦးဝင်းရှိန်<br>ပြည်ထောင်စုဝန်ကြီး<br>ဘဏ္ဍာရေးဝန်ကြီးဌာန | ဥက္ကဋ္ဌ |
| ဦးဝင်းထွန်း<br>ပြည်ထောင်စုဝန်ကြီး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဦးဇေယျာအောင်<br>ပြည်ထောင်စုဝန်ကြီး<br>စွမ်းအင်ဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဒေါက်တာအောင်ထွန်းသက်<br>စီးပွားရေးပညာရှင် | အဖွဲ့ဝင် |
| ဦးဝင်းခိုင်<br>ဥက္ကဋ္ဌ<br>မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | အဖွဲ့ဝင် |
| ဒေါ်မြသူဇာ<br>ဒုတိယညွှန်ကြားရေးမှူးချုပ် (အငြိမ်းစား)<br>ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန | အဖွဲ့ဝင် |
| ဒေါ်ခိုင်ခိုင်နွယ်<br>စီးပွားရေးလုပ်ငန်းရှင် | အဖွဲ့ဝင် |
| ဒေါက်တာကံဇော်<br>ပြည်ထောင်စုဝန်ကြီး<br>အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန | အတွင်းရေးမှူး |

သူရဦးသောင်းလွင် — တွဲဖက်အတွင်းရေးမှူး
ဒုတိယဝန်ကြီး(အငြိမ်းစား)
ရထားပို့ဆောင်ရေးဝန်ကြီးဌာန

**မတက်ရောက်နိုင်သူများ (တာဝန်)**

ဒေါက်တာထွန်းရှင် — အဖွဲ့ဝင်
ပြည်ထောင်စု ရှေ့နေချုပ်
ပြည်ထောင်စု ရှေ့နေချုပ်ရုံး

ဦးညွန့်တင် — အဖွဲ့ဝင်
သံအမတ်ကြီး(အငြိမ်းစား)

**အထူးဖိတ်ကြားခြင်းဖြင့် တက်ရောက်သူများ**

ဦးဇော်အောင်
ဒုတိယညွှန်ကြားရေးမှူးချုပ်
မြန်မာ့ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်း

ဦးဟံထွန်း
ညွှန်ကြားရေးမှူး
မြန်မာ့ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်း

ဒေါ်မေသီလင်း
ညွှန်ကြားရေးမှူး
ပြည်ထောင်စုရှေ့နေချုပ်ရုံး

ဦးသိန်းဇော်
အင်ဂျင်နီယာချုပ်
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

ဦးဇော်ဝင်း
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန

**ရည်ရွယ်ချက်**

၁။ ရင်းနှီးမြှုပ်နှံမှု ဆိုင်ရာကိစ္စရပ်များ နှင့်ပတ်သက်၍ ဆွေးနွေးဆုံးဖြတ်ရန်။

**ဥက္ကဋ္ဌ အမှာစကားပြောကြားခြင်း**

၂။ အမှာစကားပြောကြားခြင်းမရှိပါ။

**ဆွေးနွေးချက်များ**

**၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈/၂၀၁၃ ကြိမ်မြောက်အစည်းအဝေးမှတ်တမ်းအား အတည်ပြုပေးပါရန် တင်ပြခြင်း**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦး မှ ကော်မရှင်၏ ၁၈/၂၀၁၃ ကြိမ်မြောက်အစည်းအဝေး (၁၀-၇-၂၀၁၃)မှတ်တမ်း အား အတည်ပြုပေးပါရန် တင်ပြရာ ကော်မရှင်အစည်းအဝေးမှ အတည်ပြုကြောင်းဆုံးဖြတ်ပါသည်။

**မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဆိုင်ရာလုပ်ငန်းများ**

**၃။ Zaykabar Co., Ltd. မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲ လမ်းပိုင်း (၅၉/၆)မိုင် အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့်အဆိုပြုချက် တင်ပြခြင်းကိစ္စ**

Zaykabar Co., Ltd. ၏ စီမံကိန်းဒါရိုက်တာ ၊ ဦးရဲဝင်းရှိန် မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲ လမ်းပိုင်း (၅၉/၆)မိုင် အား BOT စနစ်ဖြင့် လမ်းအဆင့် မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းအား ၂၀၁၁ခုနှစ်၊ ဇန်နဝါရီလမှစတင်၍ သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် ဆောင်ရွက်ခဲ့ပါကြောင်း ရှင်းလင်း တင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦး မှ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်လျှက်ရှိရာ ၉၅% ပြီးစီးနေပါကြောင်း၊ အဆိုပြုချက် တွင် စက်ပစ္စည်းများပြည်ပမှ အမေရိကန်ဒေါ်လာ ၁.၅သန်းဖိုး တင်သွင်းမည်ဟုတင်ပြထားပါသဖြင့် လမ်းဖောက်လုပ် ပြီးစီးပါက တင်သွင်းရန်မလိုဟုယူဆပါကြောင်း၊ ကျန်ရှိသည့် လမ်းပိုင်းဖောက် လုပ်ရန်အတွက် ငွေကြေးအထောက်အထား တင်ပြထားမှုမှာ လုံလောက်မှုရှိပါကြောင်း ရှင်းလင်း တင်ပြပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ဥက္ကဋ္ဌ၊ ဘဏ္ဍာရေးဝန်ကြီးဌာန ၊ ပြည်ထောင်စု ဝန်ကြီးဦးဝင်းရှိန်မှ ကျန်လမ်းအပိုင်းအား မည်သည့်အချိန်၌ အပြီးဖောက်လုပ်မည်ကို သိလိုပါ ကြောင်း၊ ယခင် လမ်းအဆိုပြုချက်များတွင် လမ်းဖောက်လုပ်ပြီးစီးမှ ကော်မရှင်ခွင့်ပြုမိန့်ပေးခြင်း သို့မဟုတ် လမ်းဖောက်လုပ်မှုမပြီးခင် ကော်မရှင်ခွင့်ပြုမိန့်ပေးခြင်းကိုသိလိုပါကြောင်း၊ လမ်းဖောက် လုပ်မှုမှာ ၉၅% ပြီးစီးနေသဖြင့် လမ်းပြင်ဆင်ရန်အတွက်သာ စက်ပစ္စည်းများ လိုအပ်မည်ဖြစ် ကြောင်း ဆွေးနွေး ပြောကြားပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဘက်အတွင်းရေးမှူး၊သူရဦးသောင်းလွင် မှ လမ်းဖောက်လုပ်ခွင့်အတွက် ကော်မရှင်သို့တင်ပြခြင်း သို့မဟုတ် လမ်းအသုံးပြုခပါ တစ်ပါတည်း ကောက်ခံရန် တင်ပြခြင်း ဟုတ်မဟုတ် သိလိုပါကြောင်း၊ ယခင်က လမ်းအဆိုပြုချက်များအား သက်ဆိုင်ရာ ပြည်နယ်/တိုင်းဒေသကြီးများမှ စေခိုင်း၍သော်လည်းကောင်း၊ စည်းရုံးရေးအရသော်လည်းကောင်း ကုမ္ပဏီများမှ ဖောက်လုပ်ပေးခြင်းများ ရှိခဲ့ပြီး စီးပွားရေးအရ အရှုံးပေါ်ခြင်းများ ရှိပါကြောင်း၊ တန်ချိန်ပိုများ တင်ဆောင်လာပါက ဒဏ်ကြေးပိုမိုကောက်ခံပြီး၊ စရိတ်ကာမိအောင် ဆောင်ရွက်ခြင်းမျိုးလည်း ရှိကြောင်း ဆွေးနွေးပါသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာန၊ အင်ဂျင်နီယာချုပ် ဦးသိန်းဇော်မှ ဌာနမှ လမ်းလုပ်ကိုင်ခွင့်ကို ကနဦးဆောင်ရွက်စေပြီး လမ်းဖောက်လုပ်ပြီးစီးပါက သက်ဆိုင်ရာမှ စစ်ဆေးပြီးမှသာ လမ်းအသုံးပြုခကောက်ခံခွင့်ပြုပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ စီမံကိန်းဒါရိုက်တာ၊ ဦးရဲဝင်းရှိန် မှ ကုမ္ပဏီအနေဖြင့် လမ်းဖောက်လုပ်မှုကို ၂၀၁၁ ခုနှစ်ကတည်းက စတင်ဆောင်ရွက်ခဲ့ခြင်းဖြစ်ပါ၍ ယခုပွင့်လင်းရာသီတွင် ပြီးစီးမည်ဖြစ်ပါကြောင်း၊ စက်ပစ္စည်းများ တင်သွင်းမှုအား ကော်မရှင်မှ ခွင့်မပြုပါက ပြင်ဆင်ပေးမည်ဖြစ်ပါကြောင်း၊ တန်ချိန်ပိုများ တင်သွင်းခြင်းကို ခွင့်ပြု၍ မရပါကြောင်း၊ လမ်းအသုံးပြုခ ကောက်ခံကြေးများကို ဌာနသို့ပေးသွင်းရပြီး ဘဏ်သို့ ဆက်လက်ပေးသွင်းရပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင် အစည်းအဝေးမှ Zaykabar Co., Ltd. မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲ လမ်းပိုင်း (၅၉/၆)မိုင် အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူပြီး ကုမ္ပဏီမှ ပြည်ပမှစက်ပစ္စည်းများတင်သွင်းမှုအား ပြင်ဆင်တင်ပြလာပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၄။ စွမ်းအင်ဝန်ကြီးဌာနမှ မန်းရေနံမြေတွင် PCC စာချုပ်ဖြင့် ရေနံအထွက်တိုးရေးလုပ်ငန်းများ ဆောင်ရွက်နေသော MPRL E&P Pte. Ltd. ကုမ္ပဏီအား PCC စာချုပ် သက်တမ်းတိုးမြှင့်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်သက်တမ်းတိုးမြှင့်ခွင့်ပြုပါရန်ကိစ္စ**

စွမ်းအင်ဝန်ကြီးဌာန၊စွမ်းအင်စီမံရေးဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးဇော်အောင်မှ မန်းရေနံမြေတွင် PCC စာချုပ်ဖြင့် ရေနံအထွက်တိုးရေးလုပ်ငန်းများ ဆောင်ရွက်နေသော MPRL E&P Pte. Ltd. ကုမ္ပဏီအား PCC စာချုပ် သက်တမ်းတိုးမြှင့်ရေး အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်သက်တမ်းတိုးမြှင့် ခွင့်ပြုပါရန် ကိစ္စအား အကျဉ်းချုပ် ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌ၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး ဦးဝင်းရှိန်မှ မူလစာချုပ်သက်တမ်းသည် ၉နှစ်၊ ၉လ ဖြစ်ပြီး ယခု ၁၁ နှစ် သက်တမ်းတိုးခြင်း ဖြစ်၍ စီးပွားဖြစ်ကာလထဲရောက်ရှိခြင်း ရှိ-မရှိ၊ အဆိုပါသက်တမ်းတိုးခြင်းအတွက် နိုင်ငံတော်မှ ရရှိမည့်

အကျိုးအမြတ်ကို သိလိုပါကြောင်း၊ ယခင်စာချုပ်နှင့် ယခုသက်တမ်းတိုးစာချုပ် ကွာခြားမှုကို သိလိုပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ညွှန်ကြားရေးမှူး ဒေါ်မေသီလင်းမှ သက်တမ်းတိုးစာချုပ် မှာ ဇူလိုင်လ ၈ ရက်နေ့တွင် ဌာနနှင့်ကုမ္ပဏီတို့ Side Letter လက်မှတ်ရေးထိုးထားသည်ကို တင်ပြထားပါကြောင်း၊ အဆိုပါသက်တမ်းတိုး Side Letter အပေါ် ရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံထားခြင်း မရှိပါကြောင်း ရှင်းလင်းတင်ပြပါသည်။

စွမ်းအင်ဝန်ကြီးဌာန၊စွမ်းအင်စီမံရေးဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးဇော်အောင်မှ မူလစာချုပ်မှာ ၉ နှစ်နှင့် ၉ လ ဖြစ်ပါကြောင်း၊ ပထမအကြိမ် ၆ နှစ် သက်တမ်းတိုးမြှင့်ပြီးဖြစ်ပါကြောင်း၊ ယခုထပ်မံ၍ သက်တမ်း ၁၁နှစ်တိုးမြှင့်ပေးရန် ဖြစ်ပါကြောင်း၊ သက်တမ်းတိုးကာလအတွက် ကုမ္ပဏီမှ သန်း(၄၀) ထပ်မံရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး ၅ နှစ် သို့မဟုတ် ၆နှစ်ခန့်တွင် အရင်းကြေနိုင်ပါကြောင်း၊ သက်တမ်း တိုးကာလ ၁၁ နှစ်သည် ဌာနနှင့် ကုမ္ပဏီတို့ နှစ်ဦးနှစ်ဘက် အကျိုးရှိနိုင်ပါကြောင်း၊ ရရှိသည့် အမြတ်ပေါ်တွင် ဌာနမှ ၉၂% ရရှိပြီး ကုမ္ပဏီမှ ၈% သာရရှိမည်ဖြစ်ပါကြောင်း ၊ မူလစာချုပ် နှင့် သက်တမ်းတိုးစာချုပ် ကွာခြားမှုမရှိပါကြောင်း၊ Side Letter လက်မှတ်ရေးထိုးရခြင်းမှာ မူလ စာချုပ်ပါ သက်တမ်းတိုးခွင့် စာပိုဒ်များအရ လက်မှတ်ရေးထိုးရခြင်း ဖြစ်ပါကြောင်း၊ ကော်မရှင်၏ ခွင့်ပြုချက်ရရှိရန် တင်ပြခြင်း ဖြစ်ပါကြောင်း ရှင်းလင်း တင်ပြပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ဥက္ကဋ္ဌ၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးဦးဝင်းရှိန်က သက်တမ်းတိုးစာချုပ်အား အစိုးရအဖွဲ့ခွင့်ပြုချက်ဖြင့် လက်မှတ်ရေးထိုးခြင်းမဟုတ်ပါက ဝန်ကြီးဌာနမှ လက်မှတ်ရေးထိုးပြီးစာချုပ်အပေါ် ကော်မရှင်မှ အတည်ပြုပေးရခြင်းမျိုး ဖြစ်နေပါကြောင်း၊ ကော်မရှင်သို့တင်ပြပြီး ခွင့်ပြုချက်ရရှိမှသာ တရားဝင်လက်မှတ်ရေးထိုးသင့်ပါကြောင်း၊ အဆိုပါစာချုပ်အပေါ် ရှေ့နေချုပ်ရုံးမှ ပြန်သုံးသပ်ပြီး သဘောထားပြန်ကြားပြီးမှသာ စာချုပ်လက်မှတ်ရေးထိုးသင့်ပါကြောင်း၊ စွမ်းအင်ဝန်ကြီးဌာန၏ Draw Back ကိစ္စရပ်များတွင် ပုံမှန်လမ်းကြောင်းပေါ်ရောက်အောင် ဆောင်ရွက်ရန် ကိစ္စရပ်များရှိပါကြောင်း ဆွေးနွေးပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦး မှ Side Letter အပေါ် ရှေ့နေချုပ်ရုံးသဘောထား မှတ်ချက်ရယူပြီး ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူပြီးမှသာ ဌာနနှင့်ကုမ္ပဏီတို့ စာချုပ်လက်မှတ် ရေးထိုးရပါကြောင်းနှင့် လက်ရှိရင်းနှီးမြှုပ်နှံမှုပမာဏ US$ ၁၅၉ သန်း ကျော်လွန်သုံးစွဲထားပြီး ဖြစ်ပါသဖြင့် ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်ခွင့်အတွက် ကော်မရှင်သို့ တင်ပြရမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ MPRL E&P Pte. Ltd. ကုမ္ပဏီအား PCC စာချုပ် သက်တမ်းတိုးမြှင့်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့် သက်တမ်း တိုးမြှင့်ခွင့်ပြုပါရန်ကိစ္စအား Side Letter အပေါ် ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက် ပြန်လည်တောင်းခံပြီး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်၍ ကော်မရှင်သို့ ပြန်လည် တင်ပြရန် ဆုံးဖြတ်ပါသည်။

၅။ **စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓါတ်ငွေ့လုပ်ငန်း အမည်ဖြင့် CNPC South-East Asia Gas Pipeline Co., Ltd. နှင့် CNPC South - East Asia Crude Oil Pipeline Co., Ltd. တို့က နိုင်ငံခြားမှ တင်သွင်းခဲ့သည့် ယန္တရားနှင့် လုပ်ငန်းသုံးပစ္စည်းများ၏ Draw Back သက်တမ်းပထမအကြိမ် တိုးမြှင့်ခွင့်တောင်းခံခြင်း ကိစ္စ။**

စွမ်းအင်ဝန်ကြီးဌာန၊ စွမ်းအင်စီမံရေးဦးစီးဌာန၊ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးဇော်အောင်မှ မြန်မာ့ရေနံနှင့် သဘာဝဓါတ်ငွေ့လုပ်ငန်းအမည်ဖြင့် CNPC South - East Asia Gas Pipeline Co., Ltd. နှင့် CNPC South - East Asia Crude Oil Pipeline Co., Ltd. တို့က နိုင်ငံခြားမှ တင်သွင်းခဲ့သည့် ယန္တရားနှင့် လုပ်ငန်းသုံးပစ္စည်းများ၏ Draw Back သက်တမ်း ပထမ အကြိမ် တိုးမြှင့်ခွင့်တောင်းခံခြင်း ကိစ္စအား အကျဉ်းချုပ်ရှင်းလင်းတင်ပြပါသည်။

အကောက်ခွန်ဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဦးဇော်လင်းမှ နိုင်ငံခြားမှ တင်သွင်းခဲ့သည့် ယန္တရားနှင့် လုပ်ငန်းသုံးပစ္စည်းများ၏ Draw Back ဖြင့် တင်သွင်းခြင်းအပေါ် မူအရ အပြည့် ကောက်ခံရမည်ဖြစ်ပြီး ပြန်လည်တင်ပို့သည့်အခါ ၇/၈ refund ပြန်ထုတ်ပေးရပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦး မှ သက်တမ်းတိုးတင်ပြသည့် (၁)နှစ်အတွက် ကာလအားဖြင့်(၆)လသာ ကျန်ရှိပါကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌ၊ ဘဏ္ဍာရေးဝန်ကြီးဌာန ၊ ပြည်ထောင်စု ဝန်ကြီး ဦးဝင်းရှိန်မှ Draw Back သက်တမ်းမှာ (၂)နှစ်သာဖြစ်ကြောင်း၊ ယခုသက်တမ်းတိုးကာလ (၁)နှစ်အတွက် တင်ပြချိန်နောက်ကျနေပါသဖြင့် ပစ္စည်းအလိုက် ကျန်ရှိမည့် ခံစားခွင့်ကာလမှာ လျော့သွားမည်ဖြစ်ပါ၍ လက်ကျန်ကာလကိုသာ ခံစားခွင့်ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓါတ်ငွေ့လုပ်ငန်း အမည်ဖြင့် CNPC South - East Asia Gas Pipeline Co., Ltd. နှင့် CNPC South- East Asia Crude Oil Pipeline Co., Ltd. တို့က နိုင်ငံခြားမှတင်သွင်းခဲ့သည့် ယန္တရားနှင့် လုပ်ငန်းသုံး ပစ္စည်းများ၏ Draw Back သက်တမ်းပထမအကြိမ် (၁)နှစ်တိုးမြှင့်ခွင့်ပြုရန် ဆုံးဖြတ်ပါသည်။

**ဆုံးဖြတ်ချက်**

၆။ အောက်ပါအတိုင်း ဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည် -

| စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|
| (က) | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၉/၂၀၁၃)ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း (၁၀-၇-၂၀၁၃)အား အတည်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် |

| စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- | --- |
| (ခ) | Zaykabar Co., Ltd. မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲ လမ်းပိုင်း (၅၉/၆)မိုင် အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူပြီး ကုမ္ပဏီမှ ပြည်ပမှ စက်ပစ္စည်းများ တင်သွင်းမှုအား ပြင်ဆင်တင်ပြလာပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>ဆောက်လုပ်ရေးဝန်ကြီး ဌာန |
| (ဂ) | MPRL E&P Pte. Ltd. ကုမ္ပဏီအား PCC စာချုပ် သက်တမ်းတိုးမြှင့်ရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်သက်တမ်း တိုးမြှင့်ခွင့်ပြုပါရန် ကိစ္စအား Side Letter အပေါ် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် ပြန်လည်တောင်းခံပြီး လုပ်ထုံးလုပ်နည်း နှင့်အညီ ဆောင်ရွက်၍ ကော်မရှင်သို့ ပြန်လည်တင်ပြရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>စွမ်းအင်ဝန်ကြီး ဌာန |
| (ဃ) | စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓါတ်ငွေ့ လုပ်ငန်းအမည်ဖြင့် CNPC South - East Asia Gas Pipeline Co., Ltd. နှင့် CNPC South -East Asia Crude Oil Pipeline Co., Ltd. တို့က နိုင်ငံခြားမှ တင်သွင်းခဲ့သည့် ယန္တရားနှင့် လုပ်ငန်းသုံးပစ္စည်းများ၏ Draw Back သက်တမ်း ပထမအကြိမ် (၁)နှစ်တိုးမြှင့်ခွင့်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>စွမ်းအင်ဝန်ကြီး ဌာန |

အစည်းအဝေးကို (၁၇း၃၀)နာရီ တွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(သန့်စင်ကြိုင်)

ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက်စွဲ၊ ရက-၁/မ-၀၀၂/၂၀၁၃(        )

ရက် စွဲ၊ ၂၀၁၃ ခုနှစ်၊ ဇူလိုင် လ (၃၁ )ရက်

**ဖြန့်ဝေခြင်း**

- အစည်းအဝေးတက်ရောက်သူများအားလုံး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(က)/မ- ၁၃၄၉/၂၀၁၃( ၈၁၀၆)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ဇူလိုင် လ ၂၄ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **Zaykabar Co., Ltd မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Zaykabar Co., Ltd မှ လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်းပိုင်း (၅၉/၆)မိုင်အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ဇေဇင်လတ် (အဘ- ဦးခင်ရွှေ) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုလမ်းစီမံကိန်းအတွက် လမ်းအသုံးပြုခများကိုဘုရားငုတ်တိုလမ်းဆုံဂိတ်၊ ပျော်ဘွယ်လေးဂိတ် နှင့် ကံဘဲ့ဂိတ်စသည့် ဂိတ်(၃)ခု တို့တွင် ကောက်ခံမည်ဖြစ်ပါသည်။ အဆိုပြုလမ်းစီမံကိန်းတွင် ကုမ္ပဏီမှ တည်ဆောက်သော ပေ ၁၈၀ အထက် တံတား မရှိပါကြောင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တင်ပြထားပါသည်။

၃။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၉-၀(၁))

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်း သက်တမ်း ကာလကို ရေတွက်ရာတွင် ခွင့်ပြုသတ်မှတ်ထားသည့် လုပ်ငန်းကာလ(၃)နှစ် အထိ စီမံကိန်းလုပ်ငန်းပါ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အပြီး ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း ကာလ (၃)နှစ်ထက်စော၍ ပြီးစီးပြီး လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ရက်၊ ထိုနှစ်ရပ်အနက် စောရာနေ့ရက် ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါသည်။[စာချုပ်အပိုဒ် ၂၃(ခ/၀) ]

(ဂ) အဆိုပြုကုမ္ပဏီမှ အောက်ပါ လမ်း-တံတား အသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံ မည် ဖြစ်ပါသည်-(စာချုပ်အပိုဒ် ၈-က)

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | သုံးဘီးဆိုင်ကယ် | ၅ ကျပ် |
| ၂။ | ထော်လာဂျီ(ဒိန်းဒေါင်း)၊ဆလွန်း၊ ဗင်၊ (၂)တန်အောက် | ၅ ကျပ် |
| ၃။ | Farm Truck(၂ လုံး ထိုး)၊ Double Cab ၊ Pajero ၊ Parado ၊ Micro Bus ၊ Super Custom ခရီးသည်ယာဉ်(လတ်) | ၁၅ ကျပ် |
| ၄။ | ဟိုင်းလတ်၊လိုက်ထရပ်(သေး) | ၂၀ ကျပ် |
| ၅။ | ဒိုင်နာ၊ကင်တာ(လတ်)လိုက်ထရပ်(လတ်)(၄)ဘီးကား | ၂၀ ကျပ် |
| ၆။ | Farm Truck (၄ လုံး ထိုး) | ၃၀ ကျပ် |
| ၇။ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ် (ကိုယ်ထည်အလျား = ၁၅ ပေအောက်) (၆)ဘီးကား၊ Mini Bus ခရီးသည် (၂၄)ဦး၊ ဟီးနိုး (သေး)(၂၅)ဦး | ၃၀ ကျပ် |
| ၈။ | ဒိုင်နာ၊ ကင်တာ(ကြီး) (ကိုယ်ထည်အလျား = ၁၅ပေ အထက်) (၆)ဘီး | ၇၅ ကျပ် |
| ၉။ | BMခရီးသည်တင်ယာဉ်(လတ်)ခရီးသည် ( ၂၆ မှ ၃၅ ) ဦး ထိ | ၃၀ ကျပ် |
| ၁၀။ | ဟီးနိုး၊ ကာကို ၊ နီဆန်း၊ ကွန်တို (၆)ဘီးကား (ကုန်တင်ယာဉ်) | ၁၀၀ ကျပ် |
| ၁၁။ | TE 11၊ TE 21 ၊GMC ၊Fuso၊ UD ကောင်တာ (၆)ဘီးကား၊ (ကုန်တင်ယာဉ်) | ၁၀၀ ကျပ် |
| ၁၂။ | ဟီးနိုး/ဟွန်ဒိုင်း/ဒေဝူးခရီးသည်တင်ယာဉ်(ကြီး)၊ (ခရီးသည် ( ၃၆ မှ ၄၅ ) ဦး ထိ | ၅၀ ကျပ် |
| ၁၃။ | ခရီးသည်တင်မှန်လုံယာဉ်ကြီး (ခရီးသည် ၄၆ ဦးနှင့် အထက်) | ၅၅ ကျပ် |
| ၁၄။ | (၆)ဘီးကား၊ ဝင်ရိုး(၂)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၀၀ ကျပ် |
| ၁၅။ | (၈)ဘီးကား၊ ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၁၅ ကျပ် |
| ၁၆။ | (၁၀)ဘီးကား၊ ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၂၅ ကျပ် |
| ၁၇။ | (၁၂)ဘီးကား၊ ဝင်ရိုး(၄)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၅၀ ကျပ် |
| ၁၈။ | (၁၄)ဘီးကား၊ ဝင်ရိုး(၅)ခု(Lift Axel)ပါ ကုန်တင်ယာဉ်ကြီး (ဘီးအားလုံးလမ်းပေါ်ချ၍မောင်းနှင်ရမည်) | ၁၇၅ ကျပ် |
| ၁၉။ | (၁၄)ဘီးတွဲကား၊ ဝင်ရိုး(၄)ခုပါ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၂၀၀ ကျပ် |
| ၂၀။ | (၁၈)ဘီးတွဲကား၊ ဝင်ရိုး(၅)ခုပါ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၃၀၀ ကျပ် |

